ကုမ္ပဏီအမည် - Kanaan International Co., Ltd.

လုပ်ငန်း - CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၄-၁၀-၂၀၁၄ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၂-၁၀-၂၀၁၄ | ၃၀-၁၀-၂၀၁၄ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၄-၁၀-၂၀၁၄ | ၁၃-၁၁-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၂၄-၁၀-၂၀၁၄ | ၁၉-၁၁-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၂၄-၁၀-၂၀၁၄ | ၁၃-၁၁-၂၀၁၄ | |
| | (င) CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၂၄-၁၀-၂၀၁၄ | ၁၀-၁၁-၂၀၁၄ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၁/၂၀၁၄) သို့ တင်ပြခြင်း | ၂၀-၁၀-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၁-၁၀-၂၀၁၄ | | |
| ၅ | မြေအသုံးပြုခွင့်အား ကော်မရှင်အစည်းအဝေး (၂၃/၂၀၁၄)ကြိမ်နှင့် စီးပွားရေးရာ ကော်မတီ အစည်းအဝေး (၃၄/၂၀၁၄)သို့ တင်ပြထားပြီး ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးများ သို့ ဆက်လက် တင်ပြမည်ဖြစ်ပါသည်။ | | | |
| ၆ | ကုမ္ပဏီသို့ လိုအပ်ချက်များပြင်ဆင်ရန် အကြောင်းကြားခြင်း | ၁၃-၁၁-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | | ၁၇-၁၁-၂၀၁၄ | |
| ၈ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ အစုံ(၁၅)စုံ ပေးပို့ခြင်း | | ၂၆-၁၁-၂၀၁၄ | |
| ၉ | **စုစုပေါင်းကြာမြင့်ရက် ၄၃ ရက်** | | | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kanaan International Co., Ltd. တည်ထောင်ကာ CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Kanaan International Co., Ltd. |
| | | - Mr. Kim Yongman (Korean) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Kanaan Co., Ltd. (Korea) 99 % |
| | | - Mr. Youm Tae Soon (Korean) 1 % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် - ၂၃၅၊ မြေတိုင်းရပ်ကွက် အမှတ် - ၄၉၊ ဝါးတစ်ရာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေဧရိယာ | - ၁၂,၆၀၅.၉၇ စတုရန်းမီတာ (၃.၁၁၅ ဧက) |
| | အဆောက်အဦအကျယ်အဝန်း | - စက်ရုံ ၁၄၄၀၀ စတုရန်းမီတာ(၁)ထပ် အဆောက်အဦ ၁ လုံး |
| | | - ၁၆၂၀ စတုရန်းမီတာ (၃)ထပ်အဆောက်အဦ ၁ လုံး |
| | မြေပိုင်ရှင် | - ဒေါ်ခေမာကြည် |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၇၅,၆၀၀ (တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၆ နှုန်း) |
| | မြေငှားသက်တမ်း | - ၃၀ နှစ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ) |
| | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁၀ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | - **US$ (သန်း)** |
| | ငွေသား | ၂.၉၀ |
| | စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၃.၂၆ |
| | ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၅၉ |
| | မော်တော်ယာဉ်(ပြည်တွင်း) | ၀.၂၁ |
| | အဆောက်အဦကုန်ကျစရိတ် | ၃.၀၄ |
| | **စုစုပေါင်း** | **၁၀.၀၀** |
| ၆။ | ဝန်ထမ်းအင်အား | - **၁,၁၄၈ ဦး** |
| | ပြည်တွင်း | ၁,၁၁၇ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၉၀၀၀၀၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၁၄၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | ၃၁ ဦး (ပြည်ပ အနိမ့်ဆုံးကျွမ်းကျင်သူတစ်ဦး၏ လစာမှာ US$ ၅၀၀၊ အမြင့်ဆုံးလစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။) |

| | | |
|---|---|---|
| ၈။ | ၆နှစ်မြောက်တွင် ကုမ္ပဏီ၏ | |
| | ဝင်ငွေ | အမေရိကန်ဒေါ်လာ ၅.၂၈၉ သန်း |
| | အသုံးစရိတ် | အမေရိကန်ဒေါ်လာ ၄.၂၁၆ သန်း |
| | အသားတင်အမြတ် | အမေရိကန်ဒေါ်လာ ၁.၀၇၃ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၃၅၇ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် ၇ လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၄.၁၈ % |
| | | - ၁ US$ = ၉၆၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၁၁။ | လျှပ်စစ်ဓါတ်အား သုံးစွဲမှု | - ၄၀၀,၀၀၀ Unit |
| ၁၂။ | CSR | - လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု(Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | မီးဘေးကြိုတင်ကာကွယ်ရေးအတွက် စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ အရေးပေါ်အခြေအနေ ပေါ်ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက် ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Kanaan International Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ် - ၂၃၅၊ မြေတိုင်းရပ်ကွက် အမှတ် - ၄၉၊ ဝါးတစ်ရာ စက်မှုဇုန် (၄)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၁၀ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀ % ပြည်ပပို့ |
| လုပ်ငန်းသက်တမ်း | - | ၅၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ) |
| အရင်းကြေကာလ | - | ၈ နှစ် ၇ လ |
| IRR | - | ၁၄.၁၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ်၂၆၆.၈၈ သန်း | |
| ၅ | ဝင်ငွေခွန် | ကျပ် ၆၈၁.၆၀၀ သန်း | ကျပ် ၁၁၀၈.၈၀၀ သန်း |
| ၆ | ရေ/လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၀၅၆.၀၀၀ သန်း |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း (၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁) ဦး |
| ၈ | CSR ၂ % | | ကျပ် ၂၃၀.၄၀၀ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၁၂၁.၀၂၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁,၁၁၇ ဦး<br>ပြည်ပ ၃၁ ဦး<br>ပြည်တွင်းလုပ်သား (၁,၁၁၇) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | ကျပ် ၉၅၀.၀၂၈ သန်း | ကျပ် ၂၅၁၇.၃၈၅ သန်း |
| | | ၁ : | ၃ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၃/န-၁၁၀၃/၂၀၁၄( ၉၈၀ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kanaan International Co., Ltd. တည်ထောင်ကာ CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားနိုင်ငံတွင်ဖွဲ့စည်းထားသော Kanaan Co.,Ltd. နှင့် Mr. Youm Tae Soon မှ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kanaan International Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ်(၂၃၅)၊ မြေတိုင်းရပ်ကွက် အမှတ် (၄၉)၊ ဝါးတစ်ရာ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၃.၁၁၅ ဧက (၁၂,၆၀၅.၉၇ စတုရန်းမီတာ)၌ CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်ခေမာကြည် နှင့် Kanaan International Co.,Ltd. တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ အဆောက်အဦဓါတ်ပုံ၊ မြေဆိုင်ရာ အထောက်အထားများနှင့် လုပ်ငန်းတည်နေရာပြ မြေပုံများ၊ မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း) တို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၃.၁၁၅ ဧက (၁၂,၆၀၅.၉၇ စတုရန်းမီတာ) ဖြစ်ပြီး စက်ရုံ ဧရိယာမှာ ၁၄၄၀၀ စတုရန်းမီတာ ရှိသော ၂ ထပ်အဆောက်အဦတစ်လုံး နှင့် ၁၆၂၀ စတုရန်းမီတာရှိ ၃ ထပ်အဆောက်အဦ တစ်လုံးပါဝင်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန် ဒေါ်လာ ၇၅,၆၀၀ဖြစ်ပါသည်။ မြေတစ်နှစ် တစ်စတုရန်း မီတာလျှင် အမေရိကန်ဒေါ်လာ ၆ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်မှုကာလမှာ (၃) နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ US$ ၁၀.၀၀ သန်း ဖြစ်ပြီး ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| | US$ (သန်း) |
|---|---|
| ငွေသား | ၂.၉၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်ပ/ပြည်တွင်း) | ၃.၂၆ |
| ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၅၉ |
| မော်တော်ယာဉ် (ပြည်တွင်း) | ၀.၂၁ |
| အဆောက်အဦကုန်ကျစရိတ် | ၃.၀၄ |
| **စုစုပေါင်း** | **၁၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း (၁,၁၁၇) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၃၁) ဦး စုစုပေါင်း (၁,၁၄၈) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၄၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၅၀၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော ကုန်ချောပစ္စည်းများကို ပြည်ပသို့ ၁၀၀ % တင်ပို့မည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်) ၏ ထုတ်လုပ်မှု အရေအတွက်နှင့် CMP လက်ခမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ပြည်ပပို့ (Pcs) | CMP လက်ခ (US$/ Pcs) |
|---|---|---|---|
| ၁ | Shoulder Bag | ၆၈၇,၀၀၀ | ၂.၄၀ |
| ၂ | Back Pack | ၆၈၇,၀၀၀ | ၂.၅၀ |
| ၃ | Multi Pack | ၆၈၇,၀၀၀ | ၂.၈၀ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၅.၂၈၉ |
| (ခ) | အသုံးစရိတ် | ၄.၂၁၆ |
| (ဂ) | အသားတင်အမြတ် | ၁.၀၇၃ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၃၅၇ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၈ နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ် နှုန်း IRR မှာ ၁၄.၁၈ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၆၀ ကျပ် နှုန်းဖြင့် တွက်ချက်ဖော်ပြ ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းများကို ထိခိုက်နိုင်ခြင်း မရှိကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၀၉၂)ဦး+ပြည်ပလုပ်သား(၃)ဦး၊စုစုပေါင်း (၂၀၉၅)ဦးအလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေကွက်အမှတ်(၂၃၅)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၉)၊ ဝါးတစ်ရာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၃.၁၁၅ဧက (၁၂,၆၀၅.၉၇ စတုရန်းမီတာ)အား US$ ၅.၉၉ (per square meter per year)၊ US$၆,၃၀၀(Permonth)၊ US$ 75,600(peryear)နှုန်းဖြင့် ကနဦး၃၀နှစ်မှ နှစ် ၇၀ အထိ ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရလက်ခံနိုင်ခြင်း ရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း(၅-၁၁-၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်း အဝေးအမှတ်စဉ်(၄၁/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ်(၂၆)အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း သစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြု လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များ အတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင် ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ် လုပ်မှု နည်းပညာများ အသုံးပြုဆောင်ရွက်ရန်။

(၂) စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan – EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရနှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားရယူ ဆောင်ရွက်ရန်လိုကြောင်း သဘောထားမှတ်ချက်ပြန် ကြားထားပါသည်။ **ကုမ္ပဏီမှ E Guard Environmental Services Co., Ltd. နှင့်စတင်ဆောင်ရွက်နေပြီ ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါ သည်။** **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့် အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ် ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ် ပါကြောင်း၊ နှစ်အလိုက် ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်းလိုအပ်ချက် ဆီလျော်မှု ရှိပါကြောင်း၊ ကုန်ထုတ် လုပ်မှုနှင့် စက်အင်အား/လူအင်အား ဆီလျော်မှုရှိ ပါကြောင်း၊ CMPလုပ်ခ နှုန်းထား တင်ပြထားချက်တွင် အနည်းငယ်လျော့နည်း နေသဖြင့် တိုးမြှင့်ပြင်ဆင် တင်ပြရန်လိုအပ်ပါကြောင်း၊ ကုန်ကြမ်းနှင့် ပူးတွဲသုံး ပစ္စည်း တင်ပြချက်တွင် Back Packအတွက် Pu(Polyester)သုံးစွဲမှုနှုန်း အနည်းငယ်များနေသဖြင့် လျော့နည်းပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်တည်ဆဲ ဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်ချက်များကို စက်မှုဝန်ကြီး ဌာနမှ စိစစ်လက်ခံ ပြီးဖြစ်ပါသည်။** **နောက်ဆက်တွဲ(ဂ)**

(ဃ) **CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ** မှ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည်လိုအပ်ချက်နှုန်းထား၊ တားမြစ်သတ်မှတ် စံနှုန်းထားများနှင့် ကိုက်ညီမှု မရှိပါကြောင်း၊ ပစ္စည်းအားလုံး ထုတ်လုပ်မည့်ဆိုပါက စုစုပေါင်းကုန်ကြမ်း 1881360 yds ကုန်ကျမည်ဖြစ်သဖြင့် အဆိုပြုချက်တွင် 1937520yds ဖော်ပြထားသဖြင့် 56160 yds ပိုများနေသဖြင့် ပြင်ဆင်တင်ပြရန်လိုပါကြောင်း၊ CMP လက်ခနှုန်းထားများသည် လက်ရှိ လက်ခနှုန်းထားနှင့် နှိုင်းယှဉ်ရာတွင် အနည်းငယ်နည်းနေပါကြောင်း၊ ထုတ်လုပ်မှုနှုန်းထားအတိုင်း ပြည့်မီအောင် ထုတ်လုပ်နိုင်ခြင်းမရှိ၍ Operator ထပ်မံခန့်ထားလုပ်ကိုင်မှသာ အဆိုပြုချက်ပါအတိုင်း ရရှိနိုင်မည်ဖြစ်သဖြင့် ပြင်ဆင်တင်ပြသင့်ပြီး ထုတ်လုပ်နိုင်သည့်အတိုင်း ကုန်ကြမ်းတင်သွင်းသင့်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်ချက် များကို CMP လုပ်ငန်းများကြီးကြပ်ရေး ကော်မတီစိစစ်လက်ခံ ပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ(ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Kanaan Co., Ltd.သည် ၁၈-၈-၂၀၁၄ နေ့တွင် ကိုရီးယားရှိ Industrial Bank of Korea ၌ US$ ၄,၁၁၇,၄၉၃.၂၇ ရှိကြောင်းနှင့် Mr. Youm Tae Soon သည် ၃၁-၈-၂၀၁၄ နေ့တွင် ကိုရီးယားရှိ Industrial Bank of Korea ၌ US$ ၂၀၂,၄၈၁.၁၅ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါကြောင်း၊ အရေးပေါ်အခြေအနေ ပေါ်ပေါက်ပါက လုပ်ဆောင်ရန် အချက်များအားတိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည်ဖြစ်ပါ ကြောင်း၊ စက်ရုံအတွင်းနှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ Kanaan International Co., Ltd. မှ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များအတွက် စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေးစသည့် ကိစ္စရပ်များတွင် သုံးစွဲနိုင် ရန်အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ်နှင့် တစ်နှစ်

လျှင် ဝင်ငွေကျပ်သိန်း (၂၀) နှင့် အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများပြင်ဆင်သတ်မှတ်ခြင်းတွင်ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၇/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ (က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို စီးပွားရေးရာ ကော်မတီသို့ ၃၄/၂၀၁၄ (၂၀-၁၁-၂၀၁၄)ကြိမ်မြောက် အစည်းဝေးမှခွင့်ပြုထားပြီး ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ဆက်လက်တင်ပြထားပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ ကိုရီးယားနိုင်ငံတွင်ဖွဲ့စည်းထားသော Kanaan Co.,Ltd.မှ ၉၉%နှင့် Mr. Youm Tae Soon မှ ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kanaan International Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ်(၂၃၅)၊ မြေတိုင်းရပ်ကွက်အမှတ် (၄၉)၊ ဝါးတစ်ရာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၃.၁၁၅ ဧက (၁၂,၆၀၅.၉၇ စတုရန်းမီတာ)၌ CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဥ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Kanaan International Co., Ltd. | Kanaan Co., Ltd.<br>Incorporated in Korea<br>(Represented By) | (Geumgok-dong)316 Hongyureung-ro, Namyangju-si, Gyeonggi-do,Korea. |
| | | (1) Mr. Kim Yongman<br>Managing Director<br>Korean<br>P.P No. 7165100 | (Jangwi-dong, Jinhantown) 18, Jangwi-ro 49-gil, Seongbuk-gu,Seoul,Korea. |
| | | (2) Mr. Youm Tae Soon<br>Director<br>Korean<br>P. P No. M 61429416 | (Yeoksam-dong)46, Bongeunsa-ro 18-gil, Gangnam-gu,Seoul,Korea. |
| | | (3) Mr. Kim Chul Soo<br>Director<br>Korean<br>P.P No. M89712045 | (Gil-dong, Hansolbreeze)50, Cheonho-daero 173-gil, Gangdong-gu,Seoul ,Korea |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉- ၅၀၇၀၈၈၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဒေါ်မြဖုန်းထက်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - CMP စနစ်ဖြင့်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

နောက်ဆက်တွဲ-က



စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား

ရက် စွဲ ၊၂၀၁၄ ခုနှစ်၊ နိုဝင်ဘာ လ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်။



အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄. ၁၀. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၃/ န - ၁၁၀၃ / ၂၀၁၄ (၄၆၄)

၁။ ကိုရီးယားနိုင်ငံတွင် ဖွဲ့စည်းထားသော Kanaan Co., Ltd. မှ ၉၉% နှင့် Mr. Youm Tae Soon မှ ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kanaan International Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ်(၂၃၅)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၉)၊ ဝါးတစ်ရာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၃. ၁၁၅ ဧက(၁၂,၆၀၅. ၉၇ စတုရန်းမီတာ)၌ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၀၉၂)ဦး+ပြည်ပလုပ်သား (၃)ဦး၊ စုစုပေါင်း (၂၀၉၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေကွက်အမှတ်(၂၃၅)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၉)၊ ဝါးတစ်ရာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၃. ၁၁၅ ဧက (၁၂,၆၀၅. ၉၇ စတုရန်းမီတာ)အား US $ 5.99(per square meter per year)၊ US $ 6,300 (permonth)၊ US $ 75,600(peryear) နှုန်းဖြင့် ကနဦးနှစ် ၃၀ မှ နှစ် ၇၀ အထိ ငှားရမ်းလုပ်ကိုင်ခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၅. ၁၁. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၁/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၆)အရ Kanaan International Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Kanaan International Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2014/Cabinet/41.,(7)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

နောက်ဆက်တွဲ-ခ

MPT. 3149
18.11.14
M- 8271
19/11

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၈၅၈ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Kannan International Co., Ltd မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၃/န-၁၁၀၃/၂၀၁၄(၄၆၅)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကိုရီးယားနိုင်ငံတွင် ဖွဲ့စည်းထားသော Kanaan Co., Ltd မှ (၉၉%) နှင့် Mr. Yourn Tae Soon မှ (၁%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်း ပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kanaan International Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ်(၂၃၅)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၉)၊ ဝါးတစ်ရာစက်မှုဇုန်၊ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၁၂၆၀၅.၉၇)စတုရန်းမီတာ(၃.၁၁၅)၌ CMP စနစ်ဖြင့်အိတ်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံခွင့် လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်၊ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး နှစ်(၃၀) ဖြင့် စတင်ဆောင်ရွက်မည်ဖြစ်ပြီး (၅) နှစ် ၂ ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ကြောင်း၊ တည်ဆောက်မည့် ကာလမှာ(၂) နှစ်ဖြစ်ကြောင်း၊ အဆောက်အဦဧရိယာမှာ (၃၃၆၆၀ စတုရန်းမီတာ)ဆောက်လုပ်မည်ဖြစ်ကြောင်း၊ ဝန်ထမ်းပေါင်း (၂၀၉၂) ဦး ခန့်ထားမည်ဖြစ်ကြောင်း၊ မြေငှား စာချုပ်၊သင်းဖွဲ့မှတ်တမ်း၊သင်းဖွဲ့စည်းမျဉ်းများ၊ ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များ၊ ထုတ်လုပ်မည့်ကုန်ပစ္စည်းအမျိုးအစား၊ ဆောက်လုပ်မည့်စက်ရုံပုံစံ၊ အသုံးပြုမည့်စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းစာရင်း ၊ စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ၊ မီးဘေးကာကွယ်ရေးအစီအစဉ်များ၊ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားရှိမည့်အစီအစဉ်များ ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ပြုပြင်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှားများ ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက်နှင့်ယာဉ်ယန္တရားများ၏ဆူညံသံများကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်

စေနိုင်ခြင်း၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု၊လေထု၊မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်။ လုပ်ငန်းတွင်အဓိကအသုံးပြုမည့် Fabric၊ Polyester၊ စသည့် Synthetic ကုန်ကြမ်းပစ္စည်းများသည်ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ဖြတ်စ/ညှပ်စများ၊ အမှုန်အမွှားများကြောင့်ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်း၊ ပုံစံညှပ်ခြင်း၊အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Kanaan International Co., Ltd မှ အိတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) အိတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ခ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် ( Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ - ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

D:\DHHM\DSSY\CD Group\( MIC ) ( 3 ).doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

နောက်ဆက်တွဲ-ဂ

NPT-3015
12-11-14

စာအမှတ်၊ ၂၁-စမ (၂)၂၀၁၄-၂၀၁၅ (၃၅၄၉)
ရက် စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁၀ ရက်

M-5223
3/11/14

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၁၀.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၃/ န-၁၁၀၃/ ၂၀၁၄ (၄၆၆)

၁။ Kanaan International Co.,Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၉)၊ မြေကွက်အမှတ်(၂၃၅)တွင် CMP စနစ်ဖြင့် အိတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အိတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) နှစ်အလိုက် ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်းလိုအပ်ချက် ဆီလျော်မှု ရှိပါသည်။

(စ) ကုန်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား ဆီလျော်မှု ရှိပါသည်။

(ဆ) CMP လုပ်ခနှုန်းထား တင်ပြထားချက်တွင် အနည်းငယ်လျော့နည်းနေသဖြင့် တိုးမြှင့်ပြင်ဆင် တင်ပြရန် လိုအပ်ပါသည်။

(ဇ) ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း တင်ပြချက်တွင် Back Pack အတွက် Pu (Polyester)သုံးစွဲမှုနှုန်း အနည်းငယ်များနေသဖြင့် လျော့နည်းပြင်ဆင် တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Kanaan International Co.,Ltd. မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အထည်အလိပ်လုပ်ငန်း

NPT-2912
7-11-14

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

နောက်ဆက်တွဲ-ဃ

စာအမှတ်၊ ၃၄ - အလ/ခွဲ(၂)၂၀၁၄(၁၀၆၄၉)

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာ လ 4 ရက်

M-5947
10/11/14

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Kanaan International Co,Ltd မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၁၀-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက- ၃/န - ၁၁၀၃/၂၀၁၄(၄၆၇)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဝါးတစ်ရာ စက်မှုဇုန်၊ မြေတိုင်း ရပ်ကွက် (၄၉)၊ မြေကွက်အမှတ်(၂၃၅)၌ ကိုရီးယားနိုင်ငံတွင် ဖွဲ့စည်းထားသော Kanaan Co.,Ltd က ၉၉% နှင့် Mr. Youm Tae Soon က ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Kanaan International Co,Ltd တည်ထောင်ပြီး နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ရုံးလုပ်ငန်း အဖွဲ့ခေါင်းဆောင်၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေ စစ်ဆေးရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်းနှင့် အထည်ချုပ်စက်ရုံ အမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာတို့သည် ၃၀-၁၀-၂၀၁၄ ရက်နေ့တွင် တာဝန်ရှိသူများကို တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Kanaan International Co., Ltd ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ချုပ်ထည်** | **တစ်ထည်လိုအပ်ချက် နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. Shoulder Bag | 1.2 yds/pcs | ကိုက်ညီမှုရှိပါသည်။ |
| 2. Back Pack | 2.5 yds/pcs | ကိုက်ညီမှု မရှိပါ ။ |
| 3. Multi Pack | 3.2 yds/pcs | ကိုက်ညီမှုရှိပါသည်။ |

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက် နှုန်းထား၊ တားမြစ် သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှု မရှိကြောင်း တွေ့ရှိရပါသည်။

| **ချုပ်ထည်** | **အဆိုပြု ထုတ်လုပ်မှု အရေအတွက်** | **တစ်ထည်လိုအပ် ချက်နှုန်းထား** | **လိုအပ်မည့် ကုန်ကြမ်းအရေအတွက်** |
|---|---|---|---|
| 1. Shoulder Bag | 280800 pcs | 1.2 yds/pcs | 336960 yds |
| 2. Back Pack | 280800 pcs | 2.3 yds/pcs | 645840 yds |
| 3. Multi Pack | 280800 pcs | 3.2 yds/pcs | 898560 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 1881360 yds ကုန်ကျ မည်ဖြစ်သဖြင့် အဆိုပြုချက်တွင် 1937520 yds ဖော်ပြထားသဖြင့် 56160 yds ပိုများနေသဖြင့် ပြင်ဆင်တင်ပြသင့်ပါသည်။

(ခ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ။** အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် လက်ရှိ လက်ခ နှုန်းထား နှင့် နှိုင်းယှဥ်ရာတွင် အနည်းငယ် နည်းနေကြောင်း တွေ့ရှိရပါသည်-

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. Shoulder Bag | 18 US$/ Dz | 20-22 US$/ Dz |
| 2. Back Pack | 24 US$/Dz | 24-26 US$/Dz |
| 3. Multi Pack | 30 US$/Dz | 26-28 US$/Dz |

(ဂ) **နှစ်စဥ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ Shoulder Bag ၊ Back Pack နှင့် Multi Pack တို့ဖြစ်ပြီး Single Needle Machines ၁၁၉၆ လုံး၊ Double Needle Machines ၅၉ လုံးဖြင့် Operators ၆၀၀ ဦး ၊ Helpers ၄၈၀ ဦး ဖော်ပြထားပြီး Quality Control Workers ဖော်ပြထားခြင်း မရှိပါ။ Cutting & Finishing လုပ်ငန်း ဆောင်ရွက်ရန် လူဦးရေ ခွဲခြားတာဝန်ချထားပါက စက်အားလုံး လည်ပတ်နိုင်ခြင်း မရှိကြောင်း တွေ့ရှိရပါသည် ။လူဦးရေ အခြေခံတွက်ချက်မည် ဆိုပါက -

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1. Shoulder Bag | စက်(၁)လိုင်း | 700 pcs/10 hour | 217000 pcs |
| 2. Back Pack | စက်(၁)လိုင်း | 700 pcs/10 hour | 217000 pcs |
| 3. Multi Pack | စက်(၁)လိုင်း | 700 pcs/10 hour | 217000 pcs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုနှုန်းထားအတိုင်း ပြည့်မီအောင် ထုတ်လုပ်နိုင်ခြင်း မရှိ၍ Operator ထပ်မံခန့်ထားလုပ်ကိုင်မှသာ အဆိုပြုချက်ပါအတိုင်း ရရှိနိုင်မည် ဖြစ်သဖြင့် ပြင်ဆင်တင်ပြသင့်ပြီး ထုတ်လုပ်နိုင်သည့် အတိုင်း ကုန်ကြမ်း တင်သွင်း သင့်ပါသည် -

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ထည်) |
|---|---|---|
| 1. Shoulder Bag | 280800 pcs | 217000-220000 pcs |
| 2. Back Pack | 280800 pcs | 217000-220000 pcs |
| 3. Multi Pack | 280800 pcs | 217000-220000 pcs |

၃။ သို့ဖြစ်၍ Kanaan International Co., Ltd အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုပေးသင့်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက် ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကို အထောက် အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ် ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Kanaan International Co., Ltd
ရုံးလက်ခံ
မျှောစာတွဲ

# INVESTMENT PROPOSAL

FOR

MANUFACTURING THE VARIETY OF BAGS

(CMP BASIS)

UNDER FOREIGN INVESTMENT LAW

IN

THE REPUBLIC OF THE UNION OF MYANMAR

"KANAAN INTERNATIONAL CO., LTD."

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ

အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း
(စီ အမ် ပီ စနစ်ဖြင့်)
ဆောင်ရွက်ရန်အတွက်

ရင်းနှီးမြှုပ်နှံလိုသူ၏
လုပ်ငန်းအဆိုပြုချက်

"ကန်နန်း အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်"

မာတိကာ

To
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No (1), Thit Sar Road, Yankin Township, Yangon Region.

Dated : 14.10.2014.

Subject : **Submitting Investment Proposal to Myanmar Investment Commission**

Dear Sir,

Regarding about above subject, We "**KANAAN INTERNATIONAL CO., LTD.**" which established in ( 14 ) day of the month ...October........, 2014 is the 100 % Foreign invested manufacturing company for doing "**Manufacturing the variety of Bags under CMP system** ". Our "**KANAAN INTERNATIONAL CO., LTD.**" is situated at Plot No (235), Myay Taing Quarter No. (49), Wartayar Industrial Zone, Shwe Pyi Thar Township, Yangon Region, the Republic of the Union of Myanmar and our land area is (3.115) Acres. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business with advanced technology and machines by CMP basis in Myanmar under the Foreign Investment Law.

Yours' truly,
With Regards,

**(MR. KIM YONGMAN)**
Proposed Director
**KANAAN INTERNATIONAL CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁) ၊သစ္စာလမ်း ၊ ရန်ကင်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ အောက်တိုဘာ လ (၁၄)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

အထက်ပါကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **"ကာန်နန်း အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်"** **"KANAAN INTERNATIONAL CO., LTD."** သည် အောက်တိုဘာလ၊ (၁၄) ရက်၊ ၂၀၁၄ ခုနှစ်တွင် **"အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း"** လုပ်ကိုင်ရန် ရည်ရွယ်ချက်ဖြင့် နိုင်ငံခြားသား ၁၀၀ % ရင်းနှီးမြှုပ်နှံမှု Foreign Direct Investment Company အနေဖြင့် ကုမ္ပဏီဖွဲ့စည်းတည်ထောင်ခွင့်ကို တင်ပြလျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၉/ဝါးတစ်ရာစက်မှုဇုန်)၊ မြေကွက်အမှတ် (၂၃၅)ရှိ ဧရိယာ (၃.၁၁၅ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် "အိတ်အမျိုးမျိုး" ချုပ်လုပ်သောလုပ်ငန်း (Industry for Manufacturing the variety of bags) ကိုပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ (CMP) ချုပ်ခစားစနစ်ဖြင့် ချုပ်လုပ်ပြီး နိုင်ငံခြားသို့ပြန်လည်တင်ပို့နိုင်ရန် အဆင့်မြင့်နည်းပညာများ၊ ခေတ်မီစက်ကိရိယာများဖြင့်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**(MR. KIM YONGMAN )**
Proposed Director
**KANAAN INTERNATIONAL CO., LTD.**

To
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No (1), Thit Sar Road, Yankin Township, Yangon Region.

Dated : 14.10.2014.

Subject: **Submitting for Tax Exemption and Reliefs to Myanmar Investment Commission according to Section (27)**

Dear Sir,

1. Regarding about above subject, we, "**KANAAN INTERNATIONAL CO., LTD.**" is applying to register as a Foreign Investment Company under Foreign Investment Law in Myanmar. Our factory is situated at Plot No (235), Myay Taing Quarter No. (49), Wartayar Industrial Zone), Shwe Pyi Thar Township, Yangon Region, the Republic of the Union of Myanmar and our land area is (3.115) Acres. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business, Manufacturing Industry for production of the variety of bags with advanced technology and machines in Myanmar by CMP basis.

2. Our company plan to define the estimated authorized capital of USD (50,000,000.00)and the initial issued capital is USD (10,000,000.00) and which includes investment for machineries and equipments, motor vehicles, office furniture and it also includes invested cash amount USD (2,902,553.00). We will apply again if we need to order more machines.

3. We will hire local experts and foreign experts for our business activities related with production of wallet and purse.

4. In order to get revenue for the Republic of the Union of Myanmar, to provide job opportunities for Myanmar citizens, and to improve economic development, we kindly request to get permit from Myanmar Investment Commission and we also request for tax incentive and relief according to section (27) in Foreign Investment Law.

5. Moreover, we would like to request for tax exemption to Ministry of Finance for commercial tax and income tax from income which will get from the manufacturing industry for the first (5) years.

6. We attached the following documents with the proposal :

   1) The proposal by proposed director for doing foreign investment at Republic of the Union of Myanmar
   2) Evidence of businesses and financial standing
   3) Company Memorandum of Association and Articles of Association (Draft)
   4) Graph for calculation of national revenue
   5) Table for Financial Profit for Government

Yours' truly,
With Regards,

**(MR. KIM YONGMAN)**
Proposed Director
**KANAAN INTERNATIONAL CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁) ၊သစ္စာလမ်း ၊ ရန်ကင်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ အောက်တိုဘာ လ (၁၄)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံ၊ နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၇တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်မှုဥပဒေအရ ကျွန်တော်တို့၏ **"ကန်နန်း အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်" "KANAAN INTERNATIONAL CO., LTD."** သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၉/ဝါးတစ်ရာစက်မှုဇုန်)၊ မြေကွက်အမှတ် (၂၃၅)ရှိ ဧရိယာ (၃.၁၁၅ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် "အိတ်အမျိုးမျိုး" ချုပ်လုပ်သောလုပ်ငန်း (Industry for Manufacturing the variety of bags) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ (CMP) ချုပ်ခစားစနစ်ဖြင့် ချုပ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီသည် **"အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း"** လုပ်ကိုင်ရန်အတွက် မတည်ရင်းနှီးငွေကို အမေရိကန်ဒေါ်လာ(၅၀,၀၀၀,၀၀၀.၀၀) ထားရှိကာ ကနဦးရင်းနှီးမြှုပ်နှံခြင်း အမေရိကန်ဒေါ်လာ (၁၀,၀၀၀,၀၀၀.၀၀) တွင် စက်ပစ္စည်းတန်ဖိုး၊ ပရိဘောဂတန်ဖိုး၊ မော်တော်ယာဉ် တန်ဖိုးအပြင် ငွေကြေးအားဖြင့် ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၂,၉၀၂,၅၅၃.၀၀) လည်းပါဝင် ပါသည်။ ထပ်မံ၍လိုအပ်သည့် စက်ပစ္စည်းများကို လိုအပ်ပါက ခွင့်ပြုမိန့်ထပ်မံတောင်းခံ၍ တင်သွင်းမည် ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ ထုတ်လုပ်မှုလုပ်ငန်းအတွက် လိုအပ်သောဝန်ထမ်းများကို ပြည်တွင်း/ပြည်ပရှိ အတတ်ပညာရှင်များကို အသုံးပြုထုတ်လုပ်သွားမည် ဖြစ်ပါသည်။ ထုတ်လုပ်ရရှိသော ကုန်ပစ္စည်းများ ကိုလည်း ပြည်ပသို့ ပြန်လည်တင်ပို့ရောင်းချသွားမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု တိုးတက်စေရန်လည်းကောင်း ကျွန်တော်တို့ကုမ္ပဏီ၏ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ(၂၇)တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါ သည်။

၅။ ထို့အပြင် အိတ်အမျိုးမျိုးထုတ်လုပ်သည့်လုပ်ငန်းမှ ရရှိလာသော ပထမ(၅)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် နှင့် ဝင်ငွေခွန်တို့ကို သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့် ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်များကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊
(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ
(၃) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများမူကြမ်း
(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ
(၅) နိုင်ငံတော်မှရရှိမည့်ဘဏ္ဍာရေးအကျိုးအမြတ်တွက်ချက်မှုဇယား

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**(MR. KIM YONGMAN )**
Proposed Director
**KANAAN INTERNATIONAL CO., LTD.**

To
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No (1), Thitsar Road, Yankin Township, Yangon Region.

Dated : 14.10.2014.

Subject : **Undertaking for business progress to Myanmar Investment Commission**

Dear Sir,

1. Regarding about above subject, we, "**KANAAN INTERNATIONAL CO., LTD.**" is applying to register as a Foreign Investment Company under Foreign Investment Law in Myanmar. Our factory is situated at Plot No (235), Myay Taing Quarter No. (49), Wartayar Industrial Zone, Shwe Pyi Thar Township, Yangon Region, the Republic of the Union of Myanmar and our land area is (3.115) Acres. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business, Manufacturing Industry for production of the variety of bags with advanced technology and machines in Myanmar by CMP basis.

   (a) Our company is 100% foreign investment company.

   (b) We undertake that our business will support in building up of National Economy.

   (c)We will aware of environment issues, fire safety and will plan to prevent emergency situation and natural disaster. We will also arrange to control the pollution around the area with the guidance of rules and regulations in the Republic of the Union of Myanmar.

   (d) "**KANAAN INTERNATIONAL CO., LTD.**" can guarantee that the machines we import are in good condition.

   (e) We undertake all foreign currency transactions related with this proposed business will do in either MFTB or MICB or private bank that got the authorized dealer license.

   (f) We will follow every rules and regulation for money transactions and exchange system which was set by government for using expenses and salaries of employees.

2. We, "**KANAAN INTERNATIONAL CO., LTD.**" would like to undertake to follow all laws, rules and regulations, procedures, orders and instructions enforced by government of the Republic of the Union of Myanmar.

Yours' truly,
With Regards,

**(MR. KIM YONGMAN)**
Proposed Director
**KANAAN INTERNATIONAL CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁) ၊သစ္စာလမ်း ၊ ရန်ကင်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၄ ခုနှစ်၊ အောက်တိုဘာ လ (၁၄)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက် ၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါ အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ "**ကန်နန်း အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်**" "**KANAAN INTERNATIONAL CO., LTD.**" သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၉/ဝါးတစ်ရာစက်မှုဇုန်)၊ မြေကွက်အမှတ် (၂၃၅)ရှိ ဧရိယာ (၃.၁၁၅ ဧက) အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် "အိတ်အမျိုးမျိုး" ချုပ်လုပ်သောလုပ်ငန်း (Industry for Manufacturing the variety of bags) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ (CMP) ချုပ်ခစားစနစ်ဖြင့် ချုပ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

(က) ဤလုပ်ငန်းသည် နိုင်ငံခြားသား ၁၀၀ % ရင်းနှီးမြှုပ်နှံသောကုမ္ပဏီ ဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းသည် နိုင်ငံတော်အတွက် စီးပွားရေးလုပ်ငန်းလုပ်ဆောင်သော အခြေခံစီးပွားရေး လုပ်ငန်းအဆောက်အအုံကို အထောက်အကူပြုသောလုပ်ငန်းဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါ သည်။

(ဂ) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအတွက် လည်း အစီအမံများပြုလုပ်သွားမည့်အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ဥပဒေများ၊ နည်းဥပဒေစည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဃ) "**ကန်နန်း အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်**" "KANAAN INTERNATIONAL CO., LTD." အနေဖြင့် ပြင်ပမှဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းများရှိခဲ့ပါကလည်း ကောင်းမွန်သောအရည်အသွေးရှိ သောပစ္စည်းများကိုသာ တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

